ပုံစံ (မနသ-၂)

တာအမှတ် ၄၆၆၈၀

ရက်စွဲ ၂၆-၃-၂၀၁၆

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၁၁၆၀/၂၀၁၆ ။ ၂၀၁၆ ခုနှစ်၊ မတ်လ ၂၆ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ယာယာ(ခ) ဦးသန်းလွင်

(ခ) **အဘ အမည်** မိုဟာမက်ယူနွတ်(ခ) ဦးလှရှိန်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ကတတ(နိုင်) ၀၀၄၉၂၄

(ဃ) **နေရပ်လိပ်စာ** အမှတ်(၃၂)၊ နတ်မောက်လမ်း၊ တာမွေမြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** မန်စာအိုင်းရင်းအင်(န်) စတီးဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချားရင် ကုမ္ပဏီလီမိတက် (Mansa Iron and Steel Fabrication & Manufacturing Company Limited)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** သံနှင့် သံမဏိပစ္စည်းအမျိုးမျိုး ပြုပြင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရန်ကုန်တိုင်းဒေသကြီး၊ တောင်ဒဂုံမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-၅၂၉/၃၊ ၅၂၉/၄ ရှိ မြေဧရိယာ ၄.၇၀၄ ဧက (၁၉၀၁၆.၄၂၉ စတုရန်းမီတာ)

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း ၃၀၂၂၅ (US$ ၂၉.၂၂၅ သန်း အပါအဝင် ကျပ်သန်းပေါင်း သုံးသောင်း နှစ်ရာ့ နှစ်ဆယ်ငါး ခန့်)

(ဈ) **တည်ဆောက်မှုကာလ** ၂ နှစ်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
## အမိန့်ကြော်ငြာစာအမှတ်၊ ၅၂ /၂၀၁၆(မနသ)
## ၂၀၁၆ ခုနှစ် မတ်လ ၂၆ ရက်

၁။ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချာရင် ကုမ္ပဏီလီမိတက် (Mansa Iron and Steel Fabrication & Manufacturing Company Limited)သည် ရန်ကုန်တိုင်းဒေသကြီး၊ တောင်ဒဂုံမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-၅၂၉/၃၊ ၅၂၉/၄ ရှိ မြေဧရိယာ ၄.၇၀၄ ဧက (၁၉၀၃၆.၄၂၉ စတုရန်းမီတာ) အား ငှားရမ်း၍ သံနှင့် သံမဏိပစ္စည်းအမျိုးမျိုး ပြုပြင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်ကို ၂၀၁၆ ခုနှစ် မတ်လ ၁၈ ရက် နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀/၂၀၁၆ အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချာရင် ကုမ္ပဏီလီမိတက် (Mansa Iron and Steel Fabrication & Manufacturing Company Limited)ကို သံနှင့် သံမဏိပစ္စည်းအမျိုးမျိုး ပြုပြင်ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ- ၁၁၆၀/၂၀၁၆ ကို ထုတ်ပေးလိုက်သည်။

၂။ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချာရင် ကုမ္ပဏီလီမိတက် (Mansa Iron and Steel Fabrication & Manufacturing Company Limited) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ကို ခံစားခွင့်ပြုနိုင်ရန် ဤ အမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံရန်အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန် ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍

တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခွင့်ကို လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်းအခွန်အကောက်များဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်း အမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချားရင် ကုမ္ပဏီလီမိတက် (Mansa Iron and Steel Fabrication & Manufacturing Company Limited) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **တုတ်လုပ်မှု ရည်မှန်းချက်များ ကိုအနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိဆောင်ရွက်အကောင်အထည်ဖော်ရမည်။

၅။ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချားရင် ကုမ္ပဏီလီမိတက် (Mansa Iron and Steel Fabrication & Manufacturing Company Limited) သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစု ထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၇။ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချားရင် ကုမ္ပဏီလီမိတက် (Mansa Iron and Steel Fabrication & Manufacturing Company Limited) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန တို့သို့ ပေးပို့ အစီရင်ခံရမည်။

၈။ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချားရင် ကုမ္ပဏီလီမိတက် (Mansa Iron and Steel Fabrication & Manufacturing Company Limited) သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမားဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင် ရွက်ရမည်။

၉။ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချားရင် ကုမ္ပဏီလီမိတက် (Mansa Iron and Steel Fabrication & Manufacturing Company Limited) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန် အတွက်လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ထို့ပြင် ရေသို လှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံး ပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၀။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်

ရှက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၁။ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချားရင် ကုမ္ပဏီလီမိတက် (Mansa Iron and Steel Fabrication & Manufacturing Company Limited) သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၂။ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချားရင် ကုမ္ပဏီလီမိတက် (Mansa Iron and Steel Fabrication & Manufacturing Company Limited) သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (သုံး)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်**တင်ပြ၍အတည်ပြုခွင့်ပြုချက်ကိုရယူရမည်။

၁၄။ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချားရင် ကုမ္ပဏီလီမိတက် (Mansa Iron and Steel Fabrication & Manufacturing Company Limited) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီး ဌာနများမှချမှတ်ထားသောတည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များနှင့် အညီ လိုက်နာ ဆောင်ရွက်ရမည်။

၁၅။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထား သော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသောလုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရ ဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟုမှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရကက-၃/မ-၁၃၀၂/၂၀၁၆ (၄၆၆-ဆ)
ရက်စွဲ၊ ၂၀၁၆ခုနှစ် မတ်လ ၂၆ ရက်

**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
ပြည်ထဲရေးဝန်ကြီးဌာန
ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန
ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန
လျှပ်စစ်စွမ်းအားဝန်ကြီးဌာန
လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန
ဘဏ္ဍာရေးဝန်ကြီးဌာန
အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန
အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန
မြန်မာနိုင်ငံတော် ဗဟိုဘဏ်
ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး
ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း
ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယာဉ်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ လုဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်
အုပ်ချုပ်မှုဒါရိုက်တာ၊ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချားရင်ကုမ္ပဏီ လီမိတက် (Mansa Iron and Steel Fabrication & Manufacturing Company Limited)

ကုမ္ပဏီအမည်။ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်ချူဖက်ချားရင် ကုမ္ပဏီ လီမိတက်

လုပ်ငန်း ။ သံနှင့် သံမဏိပစ္စည်းအမျိုးမျိုး ပြုပြင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၀-၁၂-၂၀၁၅ | - | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | - ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၂-၁၂-၂၀၁၅ | ၁၄-၁-၂၀၁၆ | |
| | - ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာန | ၂၂-၁၂-၂၀၁၅ | ၆-၁-၂၀၁၆ | |
| | - စက်မှုဝန်ကြီးဌာန(ပထမအကြိမ်) | ၂၂-၁၂-၂၀၁၅ | ၁၁-၁-၂၀၁၆ | |
| | (ဒုတိယအကြိမ်) | ၁၀-၃-၂၀၁၆ | ၁၆-၃-၂၀၁၆ | |
| | - ဆောက်လုပ်ရေးဝန်ကြီးဌာန | ၂၂-၁၂-၂၀၁၅ | ၅-၁-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးတင်ပြခြင်း (၄၇/၂၀၁၅) | ၂၀-၁၂-၂၀၁၅ | - | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းပြန်ကြား ခြင်း | ၂၀-၁၂-၂၀၁၆ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေး ဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားခြင်း | ၁-၁-၂၀၁၆ | | |
| ၆ | ကုမ္ပဏီမှ စက်မှုဝန်ကြီးဌာန၏ သဘောထား မှတ်ချက်နှင့် အညီ ပြင်ဆင်ချက် ပေးပို့ခြင်း | ၉-၃-၂၀၁၆ | | |
| ၇ | ကုမ္ပဏီမှပြင်ဆင်ပြီးအဆိုပြုလွှာ ပေးပို့ခြင်း | ၉-၃-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၈၀)ရက်** | | |

- စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့် အညီပြင်ဆင်ပေးပို့ပါရန် ကုမ္ပဏီအား ၂၀-၁-၂၀၁၆ ရက်စွဲဖြင့် အကြောင်းကြားခဲ့ခြင်းအပေါ် ကုမ္ပဏီမှ ၉-၃-၂၀၁၆ ရက်နေ့မှ ပြန်လည်တင်ပြ လာခြင်းဖြစ်ပါသည်။

ကုမ္ပဏီအမည် - မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်ချူဖက်ချားရင် ကုမ္ပဏီလီမိတက်
အဖွဲ့အစည်းပုံသဏ္ဌာန် - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု
လုပ်ငန်းအမျိုးအစား -သံနှင့် သံမဏိပစ္စည်းအမျိုးမျိုး ပြုပြင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း
တည်နေရာ - ရန်ကုန်တိုင်းဒေသကြီး၊ တောင်ဒဂုံမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက် အမှတ်-၅၂၉/၃၊ ၅၂၉/၄
စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - ကျပ် ၃၀၂၂၅ သန်း (အမေရိကန်ဒေါ်လာ ၂၉.၂၂၅ သန်းအပါအဝင်)
ရောင်းချမည့်စနစ် - ပြည်တွင်း ၁၀၀%
လုပ်ငန်းသက်တမ်း - ၅၀ နှစ်
အရင်းကြေကာလ - ၄နှစ် ၅လ
IRR - ၂၇ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ကျပ် ၁.၆၈၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၇၇၀.၀၀ | - |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | - | ၂၆၈၅၂.၄၉ |
| ၅ | ဝင်ငွေခွန် | ၉၀၅၈.၄၂ | ၂၅၆၈၀.၀၀ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၆၀၀.၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | ဝင်ငွေခွန်ဥပဒေအတိုင်းထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | - | ၇၇၉.၅၂ |
| ၉ | မြေနှင့်အဆောက်အဦငှားရမ်းခရငွေ | | ၈၈၂.၀၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၂၀၀) ဦး အလုပ် အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါ သည်။ |
| | **စုစုပေါင်း** | **ကျပ် ၉၈၃၀.၁ သန်း** | **ကျပ် ၅၄၇၉၅.၁၇ သန်း** |
| | Cost : Benefit | ၁ : ၆ | |

အကြောင်းအရာ။ **မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချာရင် ကုမ္ပဏီ လီမိတက်မှ သံနှင့် သံမဏိပစ္စည်းအမျိုးမျိုး ပြုပြင်ထုတ်လုပ် ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချာရင် ကုမ္ပဏီ လီမိတက် |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ယာယာ(ခ) ဦးသန်းလွင် (အဘ-မိုဟာမက်ယူနွတ်(ခ)ဦးလှရှိန်) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - သံနှင့် သံမဏိပစ္စည်းအမျိုးမျိုး ပြုပြင်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ တောင်ဒဂုံမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-၅၂၉/၃၊ ၅၂၉/၄ ရှိ မြေဧရိယာ ၄.၇၀၄ ဧက (၁၉၀၃၆.၄၂၉ စတုရန်းမီတာ) |
| | မြေပိုင်ရှင် | - ယာယာ(ခ)ဦးသန်းလွင် |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၄.၇၀၄ ဧက (၁၉၀၃၆.၄၂၉ စတုရန်းမီတာ)<br>(မြေကွက်အမှတ်-၅၂၉/၃ ရှိ မြေဧရိယာ ၂.၄၄၁ ဧကနှင့် မြေကွက်အမှတ်-၅၂၉/၄ ရှိ မြေဧရိယာ ၂.၂၆၃ ဧက ) |
| | အဆောက်အဦအကျယ်အဝန်း | - ၂၇.၉၇ဧက (၁၁၃၁၉၀.၆၇စတုရန်းမီတာ) တွင် ၃၆၂၃ စတုရန်းမီတာရှိ Slitting Line Machine Shop တစ်လုံး<br>၇၅၂၅ စတုရန်းမီတာရှိ Other Machine Shop တစ်လုံးနှင့်<br>၉၂၉ စတုရန်းမီတာရှိ ရုံးခန်းတစ်လုံးတို့ ပါဝင်ပါသည်။ |
| | မြေငှားသက်တမ်း | - ၄၅ နှစ် |
| | နှစ်စဉ်မြေနှင့်အဆောက်အဦငှားရမ်းခ | - US$ ၁၂၆,၀၀၀<br>တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၆.၆ နှုန်း |
| ၅။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | ကျပ် ၃၀၂၂၅ သန်း(US$ ၂၉.၂၂၅ သန်း အပါအဝင်) တွင် ချေးငွေ US$ ၂၀.၀၀ သန်း ပါဝင်ပါသည်။ |
| | | **ကျပ်(သန်း)** |
| | - ငွေသား | ၁၀၀၀ |
| | - စက်ပစ္စည်းကိရိယာ(ပြည်တွင်း) | ၇၀၅၀ (ညီမျှသော US$ ၇.၀၅ သန်း) |
| | - ပရိဘောဂနှင့် ရုံးလုပ်ငန်းသုံးပစ္စည်းများ (ပြည်တွင်း) | ၁၄၀၅(ညီမျှသော US$ ၁.၄၀၅ သန်း) |
| | - စက်နှင့် စက်ပစ္စည်းကိရိယာများ(ပြည်ပ) | ၁၅၄၀၀(ညီမျှသော US$ ၁၅.၄၀သန်း) |
| | - ကုန်ကြမ်းပစ္စည်းများ | ၅၃၇၀(ညီမျှသော US$ ၅.၃၇ သန်း) |
| | **စုစုပေါင်း** | **၃၀၂၂၅** (US$ **၂၉.၂၂၅** သန်း အပါအဝင်) |
| | | စုစုပေါင်းမတည်ငွေရင်းတွင် ချေးငွေ ၆၆ % ပါဝင်ပါ သည်။ ချေးငွေကို စင်္ကာပူနိုင်ငံ Diplomatic Business Pte, Ltd. မှ အတိုးနှုန်း ၆% ဖြင့် ချေးယူမည်ဖြစ်ပြီး ၆ နှစ်မြောက်မှ စတင်၍ ၈ နှစ်အတွင်း အကြေပေးချေသွားမည်ဖြစ်ကြောင်း ချေးငွေစာချုပ်တွင် ဖော်ပြထားပါသည်။ |

| | | | |
|---|---|---|---|
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၅၀ နှစ် | |
| ၇။ | တည်ဆောက်ရေးကာလ | - ၂ နှစ် | |
| ၈။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀% | |
| ၉။ | ထုတ်လုပ်မှုနှင့်ရောင်းချမှု (၆နှစ်မြောက်)<br>အမျိုးအမည် | **ထုတ်လုပ်မှု**<br>**(Metric Ton)** | **ရောင်းဈေးနှုန်း**<br>**(US$/ Metric Ton)** |
| | Customised Size of Deform Bar for Construction | ၂၈,၉၈၉ | ၃၆၈ |
| | Carbon Hollow Section Round, Square, Rectangular Pipe, C-channel | ၂၈,၉၈၉ | ၃၆၈ |
| | Steel Decking Sheet | ၁၉,၃၂၆ | ၃၆၈ |
| | Bended Steel Product for Making Steel Structure | ၉,၆၆၃ | ၃၆၈ |
| | Welded Steel Product for Making Steel Structure | ၁၉,၃၂၆ | ၃၆၈ |
| | Formed Steel Roofing Product | ၂၈,၉၈၉ | ၄၂၀ |
| | Shear Steel Sheet for Making Steel Sheet | ၁၉,၃၂၆ | ၃၆၈ |
| | Slitted Steel Coil for Making Steel Structure for General Purpose | ၂၈,၉၈၉ | ၃၆၈ |
| | Sandblasted Steel for Making Steel Structure for General Purpose | ၉,၆၆၃ | ၃၇၈ |
| | Laser Cutted Steel Sheet for Making Steel Structure for General Purpose | ၉,၆၆၃ | ၃၇၈ |
| ၁၀။ | ဝင်ငွေ(၆ နှစ်မြောက်) | - အမေရိကန်ဒေါ်လာ ၇၆.၃၇ သန်း | |
| | အသုံးစရိတ်(၆ နှစ်မြောက်) | အမေရိကန်ဒေါ်လာ ၆၈.၅၇ သန်း | |
| | အသားတင်အမြတ်(၆ နှစ်မြောက်) | အမေရိကန်ဒေါ်လာ ၇.၈၀ သန်း | |
| ၁၁။ | ဝန်ထမ်းအင်အား (ပထမနှစ်) | **၂၁၀ ဦး** | |
| | ပြည်တွင်း | - ၂၀၀ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာကျပ် ၁၁၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၃၀၀,၀၀၀) | |
| | ပြည်ပ | - ၁၀ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာ US$ ၁,၀၀၀ နှင့် အမြင့်ဆုံးလစာ US$ ၂၀,၀၀၀) | |
| ၁၂။ | အရင်းကြေကာလ | - ၄ နှစ် ၅လ | |
| ၁၃။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | - ၂၇ % | |

| | | |
|---|---|---|
| ၁၄။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ်<br>(၆ နှစ်မြောက်)<br>-ဝင်ငွေခွန်<br>-ကုန်သွယ်လုပ်ငန်းခွန် | <br><br>- အမေရိကန်ဒေါ်လာ ၂.၆ဝ သန်း<br>- အမေရိကန်ဒေါ်လာ ၃.၈၂ သန်း<br>(အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် မြန်မာကျပ်ငွေ ၁,ဝဝဝ နှုန်း ဖြင့်တွက်ချက်ထားပါသည်) |
| ၁၅။ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၂,၁၆ဝ,ဝဝဝ ကီလိုဝပ် |
| ၁၆။ | ငွေကြေးအထောက်အထား | - မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချားရင် ကုမ္ပဏီလီမိတက် သည် ၃၁-၁၂-၂၀၁၉ အထိ သက်တမ်းရှိသည့် ကုမ္ပဏီမှတ်ပုံတင်အမှတ် ၄၈၇၁/၂၀၁၄-၂၀၁၅(၁-၁-၂၀၁၅)နှင့် ငွေအထောက်အထားအဖြစ်၁-၆-၂၀၁၅ ရက်စွဲဖြင့် ကမ္ဘောဇဘဏ်တွင် ကျပ် ၁,ဝ၆၆,၅ဝဝ,ဝဝဝ.ဝဝ ရှိကြောင်းအထောက်အထားများ တင်ပြထားပါသည်။ မန်စာအိုင်းရင်းအင်(န်) စတီးဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချားရင် ကုမ္ပဏီလီမိတက် နှင့် စင်ကာပူနိုင်ငံ Diplomatic Business Pte, Ltd. တို့ ချုပ်ဆိုမည့် ချေးငွေစာချုပ် (မူကြမ်း)နှင့် ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်များကို တင်ပြထားပါသည်။ |
| ၁၇။ | မီးဘေးကာကွယ်ရေးစီမံချက် | - လုပ်ငန်းဆောင်ရွက်ရာတွင် မလိုလားအပ်သော မီးဘေးအန္တရာယ်ကြောင့် ငွေကြေးနှင့် အခြားဆုံးရှုံးမှုများ မဖြစ်စေရေးအတွက်ထိရောက်သော ကြိုတင်ကာကွယ်မှုများကို ဆောင်ရွက်ရန်အတွက် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးလုပ်ငန်းများ၊ မီးငြိမ်းသတ်ရေးလုပ်ငန်းများ၊ ပြန်လည်နေရာချထားရေးနှင့် ပြန်လည်ထူထောင်ရေး လုပ်ငန်းများ၊ မီးလောင်စေနိုင်သော အခြေအနေများကို ဖယ်ရှားတားမြစ်ရန်၊ စက်ရုံအဆောက်အဦ အတွင်း မီးလောင်စေနိုင်သည့် စွန့်ပစ်ပစ္စည်းများ၊ အမှိုက်များ၊ အမြဲသန့်ရှင်းအောင် ရှင်းလင်းထားရန်၊ လောင်စာဆီများကို သတ်မှတ်ကန့်သတ်ချက် နည်းလမ်းအတိုင်း စနစ်တကျ သိုလှောင်ခြင်း၊ ဖြည့်တင်းခြင်း၊ အသုံးပြုခြင်းနှင့် စွန့်ပစ်ခြင်းများပြုလုပ်ရန်၊ လျှပ်စစ်သွယ်တန်း အသုံးပြုခြင်းကို မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းမှ ပြဋ္ဌာန်းချက်များ၊ နည်းပညာများ အတိုင်း တပ်ဆင်အသုံးပြုသွားရန် စသည်တို့ကို လိုက်နာဆောင်ရွက်သွား မည်ဖြစ်ပါကြောင်း မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်အား အသေးစိတ်ရေးဆွဲတင်ပြထားပါသည်။ |

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၃/မ-၁၃၀၂/၂၀၁၆( ၄၂၀ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၇ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချာရင် ကုမ္ပဏီ လီမိတက် မှ သံနှင့် သံမဏိပစ္စည်းအမျိုးမျိုး ပြုပြင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ**

၁။ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချာရင် ကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ တောင်ဒဂုံမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-၅၂၉/၃၊ ၅၂၉/၄ ရှိ မြေဧရိယာ ၄.၇၀၄ ဧက (၁၉၀၃၆.၄၂၉ စတုရန်းမီတာ) တွင် သံနှင့်သံမဏိပစ္စည်းအမျိုးမျိုး ပြုပြင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ယာယာ(ခ) ဦးသန်းလွင် (အဘ-မိုဟာမက်ယူနွတ်(ခ)ဦးလှရှိန်)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုသက်တမ်းမှာ ၅၀ နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂ နှစ်ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။ မြေနှင့် အဆောက်အဦ ငှားရမ်းသက်တမ်းမှာ ၄၅ နှစ်ဖြစ်ပါသည်။ မြေဧရိယာ ၄.၇၀၄ ဧက (၁၉၀၃၆.၄၂၉ စတုရန်းမီတာ) တွင် ၃၆၂၃ စတုရန်းမီတာရှိ Slitting Line Machine Shop တစ်လုံး၊ ၇၅၂၅ စတုရန်းမီတာရှိ Other Machine Shop တစ်လုံးနှင့် ၉၂၉ စတုရန်းမီတာရှိ ရုံးခန်းတစ်လုံးတို့ ပါဝင်ပါသည်။ နှစ်စဥ်မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ အမေရိကန်ဒေါ်လာ ၁၂၆,၀၀၀ ဖြစ်ပါသည်။ တစ်နှစ် တစ်စတုရန်းမီတာလျှင် ၆.၆ နှုန်း ဖြစ်ပါသည်။

၃။ လုပ်ငန်း၏ မတည်ငွေရင်းပမာဏ ကျပ် ၃၀၂၂၅ သန်း တွင် အမေရိကန်ဒေါ်လာ ၂၉.၂၂၅ သန်း ပါဝင်ပြီး ၎င်းတွင် ချေးငွေ အမေရိကန်ဒေါ်လာ ၂၀ သန်း ပါဝင်ပါသည်။ ချေးငွေပမာဏမှာ စုစုပေါင်း မတည်ငွေရင်း၏ ၆၆% ဖြစ်ပါသည်။ ချေးငွေကို စင်ကာပူနိုင်ငံ Diplomatic Business Pte, Ltd. မှ အတိုးနှုန်း ၆% ဖြင့် ချေးယူမည်ဖြစ်ပြီး ၆နှစ်မြောက်မှ စတင်၍ ၈ နှစ်အတွင်း အကြေပေးချေသွားမည်ဖြစ်ကြောင်း ချေးငွေစာချုပ်(မူကြမ်း) တွင် ဖော်ပြထားပြီး ချေးငွေပြန်လည် ပေးဆပ်မည့် အစီအစဉ်ကိုတင်ပြပါသည်။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ တစ်ဖက်ပါ အတိုင်းဖြစ်ပါသည်-

ကျပ်(သန်း)

| | | |
|---|---|---|
| (က) | ငွေပမာဏ | ၁၀၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာ(ပြည်တွင်း) | ၇၀၅၀ (ညီမျှသော US$ ၇.၀၅ သန်း) |
| (ဂ) | ပရိဘောဂနှင့်ရုံးလုပ်ငန်းသုံးပစ္စည်းများ (ပြည်တွင်း) | ၁၄၀၅(ညီမျှသော US$ ၁.၄၀၅ သန်း) |
| (ဃ) | စက်နှင့် စက်ပစ္စည်းကိရိယာများ(ပြည်ပ) | ၁၅၄၀၀(ညီမျှသော US$ ၁၅.၄၀သန်း) |
| (င) | ကုန်ကြမ်းပစ္စည်းများ | ၅၃၇၀(ညီမျှသော US$ ၅.၃၇ သန်း) |
| | စုစုပေါင်း | ၃၀၂၂၅ (US$ ၂၉.၂၂၅ သန်း အပါအဝင်) |

(1 US$ = ၁,၀၀၀ ကျပ် )

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၂၀၀ ဦး နှင့် ပြည်ပ ဝန်ထမ်း ၁၀ ဦး စုစုပေါင်း ၂၁၀ ဦးခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၁၁၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပမှ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ US$ ၁,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၂၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ သံနှင့် သံမဏိပစ္စည်းများကို ပြည်တွင်းတွင် ၁၀၀%ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းချမည့် ဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ် ပါသည် -

| | အမျိုးအမည် | ထုတ်လုပ်မှု (Metric Ton) | ရောင်းဈေးနှုန်း (US$/ Metric Ton) |
|---|---|---|---|
| (က) | Customised Size of Deform Bar for Construction | ၂၈,၉၈၉ | ၃၆၈ |
| (ခ) | Carbon Hollow Section Round, Square, Rectangular Pipe, C-channel | ၂၈,၉၈၉ | ၃၆၈ |
| (ဂ) | Steel Decking Sheet | ၁၉,၃၂၆ | ၃၆၈ |
| (ဃ) | Bended Steel Product for Making Steel Structure | ၉,၆၆၃ | ၃၆၈ |
| (င) | Welded Steel Product for Making Steel Structure | ၁၉,၃၂၆ | ၃၆၈ |
| (စ) | Formed Steel Roofing Product | ၂၈,၉၈၉ | ၄၂၀ |
| (ဆ) | Shear Steel Sheet for Making Steel Sheet | ၁၉,၃၂၆ | ၃၆၈ |
| (ဇ) | Slitted Steel Coil for Making Steel Structure for General Purpose | ၂၈,၉၈၉ | ၃၆၈ |

(ဈ) Sandblasted Steel for Making Steel Structure for General Purpose ၉,၆၆၃ ၃၇၈

(ည) Laser Cutted Steel Sheet for Making Steel Structure for General Purpose ၉,၆၆၃ ၃၇၈

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

**အမေရိကန်ဒေါ်လာ(သန်း)**

| | | |
|---|---|---|
| (က) | ဝင်ငွေ | ၇၆.၃၇ |
| (ခ) | အသုံးစရိတ် | ၆၈.၅၇ |
| (ဂ) | အသားတင်အမြတ် | ၇.၈၀ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် အမေရိကန်ဒေါ်လာ ၂.၆၀ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန်မှာ အမေရိကန်ဒေါ်လာ ၃.၈၂ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြု လုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ် ၅ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၂၇% ဖြစ်ပါသည်။

၈။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါ အတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ၇-၁-၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် ၁/၂၀၁၆ ဆုံးဖြတ်ချက် အပိုဒ်(၇) အရ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်းလိုက်နာ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါ သည်-

(၁) အဆိုပြုလုပ်ငန်းများ ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်လုပ် ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာ တွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြု

ရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility- CSR) အတွက် နှစ်စဉ်အမြတ်ငွေ၏(၂%)အား အသုံးပြုရန်အပါအဝင် ကတိကဝတ်များ အား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၂) လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး၊ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု အနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်ပြီး အစီရင်ခံတင်ပြရန်။

(၃) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်/ အခိုးအငွေ့ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများအတိုင်း လိုက်နာ အကောင်အထည် ဖော်ဆောင်ရွက်ရန်။ **ကုမ္ပဏီမှ EIA,EMP အစီ ရင်ခံစာ ရေးဆွဲတင်ပြရန် အတွက် Neo Tech Myanmar Co., Ltd.သို့ အပ်နှံထားပြီးဖြစ်ကြောင်း တင်ပြထားပါသည်။** **နောက်ဆက်တွဲ - ခ**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ စက်မှုဝန်ကြီးဌာနမှ လိုအပ်ချက်များ မှတ်ချက်ပြုထားခြင်း အပေါ် **ကုမ္ပဏီမှ ပြင်ဆင် တင်ပြခြင်းကို စက်မှုဝန် ကြီးဌာနမှ စိစစ် လက်ခံပြီး ဖြစ်ပါသည်။**

**နောက်ဆက်တွဲ - ဂ**

(ဃ) **ဆောက်လုပ်ရေးဝန်ကြီးဌာန** မှ သံနှင့် သံမဏိကို ဖြတ်တောက် တပ်ဆင်ပြီး ပြုပြင်ထုတ်လုပ်ရောင်းချသည့် လုပ်ငန်း အမျိုးအစားဖြစ်ပါက ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၊ စက်မှုဝန်ကြီးဌာန၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနတို့မှ ချမှတ်သော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်မှု ရှိမည်ဆိုပါက ခွင့်ပြုနိုင်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ - ဃ**

၉။ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူ ဖက်ချားရင် ကုမ္ပဏီလီမိတက်သည် ၃၁-၁၂-၂၀၁၉ အထိ သက်တမ်းရှိသည့် ကုမ္ပဏီမှတ်ပုံတင်အမှတ် ၄၈၇၁/၂၀၁၄-၂၀၁၅ (၁-၁-၂၀၁၅) နှင့် ငွေကြေးအထောက်အထားအဖြစ် ၁-၆-၂၀၁၅ ရက်စွဲဖြင့် ကမ္ဘောဇဘဏ်တွင် ကျပ် ၁,၀၆၆,၅၀၀,၀၀၀.၀၀ ရှိကြောင်း အထောက်အထားများ တင်ပြထားပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ ဝန်ထမ်းများအတွက် ကျွမ်းကျင်မှု သင်တန်းပေးရေး အစီအစဉ်များ၊ စက်ရုံဝန်ထမ်းများ၏ လူမှုဖူလုံရေး သက်သာချောင်ချိမှု ဆောင်ရွက်မည့် အစီအစဉ်များ၊ ထုတ်လုပ်မည့်ပစ္စည်းဓာတ်ပုံနှင့် ထုတ်လုပ်ရေး အစီအစဉ်များ၊ ဝန်ထမ်းများ၏ လုပ်ခလစာပေါ်တွင် ဝင်ငွေခွန်ထမ်းဆောင်မည်ဖြစ်ကြောင်း ဝန်ခံချက်နှင့် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ချက်နှင့် လူမှုစီးပွားရေးဆိုင်ရာ သက်ရောက်မှု ဆန်းစစ်ချက်များကို ဝန်ခံကတိပြုထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရာတွင် မလိုလားအပ်သော မီးဘေးအန္တရာယ်ကြောင့် ငွေကြေးနှင့် အခြားဆုံးရှုံးမှုများ မဖြစ်စေရေး အတွက်ထိရောက်သော ကြိုတင်ကာကွယ်မှုများကို ဆောင်ရွက်ရန်အတွက် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေး လုပ်ငန်းများ၊ မီးငြိမ်းသတ်ရေးလုပ်ငန်းများ၊ ပြန်လည်နေရာချထားရေးနှင့် ပြန်လည်ထူထောင်ရေး လုပ်ငန်းများ၊ မီးလောင်စေနိုင်သော အခြေအနေများကို ဖယ်ရှားတားမြစ်ရန်၊ စက်ရုံ အဆောက်အဦ အတွင်း မီးလောင်စေနိုင်သည့် စွန့်ပစ်ပစ္စည်းများ၊ အမှိုက်များ၊ အမြဲသန့်ရှင်းအောင် ရှင်းလင်းထားရန်၊ လောင်စာဆီများကို သတ်မှတ်ကန့်သတ်ချက် နည်းလမ်းအတိုင်း စနစ်တကျ သိုလှောင်ခြင်း၊ ဖြည့်တင်းခြင်း၊ အသုံးပြု ခြင်းနှင့် စွန့်ပစ်ခြင်းများပြုလုပ်ရန်၊ လျှပ်စစ်သွယ်တန်း အသုံး ပြုခြင်းကို မြန်မာ့လျှပ်စစ်ဓာတ်အားလုပ်ငန်းမှ ပြဋ္ဌာန်းချက်များ၊ နည်းပညာများ အတိုင်း တပ်ဆင်အသုံးပြုသွားရန် စသည်တို့ကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်အား အသေးစိတ်ရေး ဆွဲတင်ပြထားပါသည်။

၁၂။ ကုမ္ပဏီမှ နှစ်စဉ် အသားတင်အမြတ်၏(၂)%ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR) အတွက် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၃။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၂၁ ရက်နေ့တွင် ကျင်းပသော ၄၇/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀(က၊ ဂ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘာရီကေးရှင်းအင်(န်) မန်နျူဖက်ချားရင် ကုမ္ပဏီ လီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ တောင်ဒဂုံမြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-၅၂၉/၃၊ ၅၂၉/၄ ရှိ မြေဧရိယာ ၄.၇၀၄ ဧက (၁၉၀၃၆.၄၂၉ စတုရန်းမီတာ) တွင် သံနှင့်သံမဏိပစ္စည်းအမျိုးမျိုး ပြုပြင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီ လ ၁၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၂. ၁၂. ၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက - ၃/ မ-၁၃၀၂/ ၂၀၁၅(၁၇၉၀-ည)

၁။ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-၅၂၉/၃ ရှိမြေဧရိယာ ၂. ၄၄၁ ဧက(၉၈၇၈. ၁၈၅ စတုရန်းမီတာ)နှင့် မြေကွက်အမှတ်-၅၂၉/၄ ရှိ မြေဧရိယာ ၂. ၂၆၃ ဧက(၉၁၅၈. ၀၄၄ စတုရန်းမီတာ) စုစုပေါင်းမြေဧရိယာ ၄. ၇၀၄ ဧက (၁၉၀၃၆. ၄၂၉ စတုရန်းမီတာ)အား ငှားရမ်း၍ သံနှင့်သံမဏိပစ္စည်းအမျိုးမျိုး ပြုပြင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၂၀၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ မြေကွက်အမှတ်-၅၂၉/၃ ရှိမြေဧရိယာ ၂. ၄၄၁ ဧက(၉၈၇၈. ၁၈၅ စတုရန်းမီတာ)နှင့် မြေကွက်အမှတ်-၅၂၉/၄ ရှိ မြေဧရိယာ ၂. ၂၆၃ ဧက(၉၁၅၈. ၀၄၄ စတုရန်းမီတာ) စုစုပေါင်းမြေဧရိယာ ၄. ၇၀၄ ဧက (၁၉၀၃၆. ၄၂၉ စတုရန်းမီတာ)အား မြေငှားရမ်းခတစ်နှစ်လျှင်(၁၂၆. ၀)သန်း၊ (1sqft=615 kyats, 1sqm=6619 kyats)နှုန်းဖြင့် ကနဦး(၄၅)နှစ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၇. ၁. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၇)အရ မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချာရင်း ကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်)မန်နျူဖက်ချာရင်းကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/MIC(OSS)/ECD/၀၁(၀၁/၁၆)
ရက် စွဲ ၊ ၂၀၁၆ခုနှစ် ဇန်နဝါရီလ ၆ ရက်

M.048
8/1

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Mansa Iron and Steel Fabrication and Manufacturing Company Limited မှ သံနှင့်သံမဏိပစ္စည်းအမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂-၁၂-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက-၃/မ-၁၃၀၂/၂၀၁၅(၁၇၉၀-၄)

၁။ Mansa Iron and Steel Fabrication and Manufacturing Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံတောင်မြို့နယ်၊ စက်မှုဇုံ၊ မြေတိုင်းရပ်ကွက်အ မှတ်-၂၃၊ မြေကွက်အမှတ်- ၅၂၉/၃နှင့် ၅၂၉/၄ ရှိ စုစုပေါင်းမြေဧရိယာ(၄.၇၀၄)ဧက (၁၉၀၃၆.၄၂၉ စတုရန်းမီတာ)အားငှားရမ်း၍ သံနှင့်သံမဏိပစ္စည်းအမျိုးမျိုးပြုပြင်ထုတ် လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍စိစစ်ပြီးသဘောထားမှတ်ချက်ပြန်ကြားပေးပါရန်ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ(၅၀)နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ(၂)နှစ်ဖြစ်ကြောင်း၊ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်နှင့် ဝန်းထမ်းများလူမှုဖူလုံရေးသက်သာချောင်ချိမှုဆောင်ရွက်မည့် အစီအမံများကိုဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိသော အသားတင်အမြတ်ငွေ၏(၂%)အားလူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု( Corporate Social Responsibility – CSR ) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်

ထိန်းသိမ်းရေးနှင့်ပတ်သက်၍ Water နှင့်Soil Samples များကောက်ယူ၍ Initial Environmental Examination- IEE) အစီရင်ခံစာအားရေးဆွဲလျှက်ရှိကြောင်းဖော်ပြပါရှိပါသည်။

၃။ အဆိုပါသံနှင့်သံမဏိပစ္စည်းအမျိုးမျိုးပြုပြင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရာတွင်ဆူညံမှုကြောင့်အသံညစ်ညမ်းမှုဖြစ်ပေါ်ခြင်း၊ ညှော်နံ့များကြောင့် လေထုညစ်ညမ်းမှုဖြစ်ပေါ်ခြင်း၊ ထွက်ရှိလာသောစွန့်ပစ်ပစ္စည်းများကြောင့်အန္တရာယ်ကျရောက်နိုင်ခြင်း စသည့် လူမှုစီးပွားရေးနှင့်ဂေဟစနစ်များအပေါ် ထိခိုက်မှုရှိနိုင်ပါသဖြင့် ပတ်ဝန်းကျင်ထိခိုက်မှု ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍Mansa Iron and Steel Fabrication and Manufacturing CompanyLimited မှ သံနှင့်သံမဏိပစ္စည်းအမျိုးမျိုးပြုပြင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်၍အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု( Corporate Social Responsibility-CSR ) အတွက်နှစ်စဉ်အမြတ်ငွေ၏ (၂%)အားအသုံးပြုရန်အပါအဝင်ကတိကဝတ်များအားလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေ ရေး၊ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment-EIA)ဆောင်ရွက်ပြီးအစီရင်ခံတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်

ပစ်ပစ္စည်း၊ စွန့်ပစ်အရည်/အခိုးအငွေ့စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့် ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးရေးဆောင် ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည် တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲအစီအစဉ်( Environmental Management Plan - EMP) ရေးဆွဲတင်ပြ၍စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများအတိုင်း လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

( ဇော်မိုး )
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**စက်မှုဝန်ကြီးဌာန**

M-087
15/1/16

စာအမှတ်၊၂၁- စမ(၂)၂၀၁၅-၂၀၁၆(၃၅၂၉)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၁ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၂.၁၂.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃ / မ-၁၃၀၂/ ၂၀၁၅ (၁၇၉၀-၃)

၁။ Mansa Iron and Steel Fabrication and Manufacturing Co.,Ltd.မှ နိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံတောင်ပိုင်းမြို့နယ်၊ စက်မှုဇုံ၊ မြေတိုင်းရပ်ကွက် အမှတ်-၂၃၊ မြေကွက်အမှတ်-၅၂၉/၃ နှင့် ၅၂၉/၄ တို့တွင် သံနှင့်သံမဏိပစ္စည်းအမျိုးမျိုး ပြုပြင်ထုတ် လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ် တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် သံနှင့်သံမဏိပစ္စည်းအမျိုးမျိုး ပြုပြင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက် မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေး တို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက် ရန် လိုအပ်ပါသည်။

(င) ထုတ်လုပ်မှု Capacity စိစစ်နိုင်ရန်အတွက် ပြည်တွင်းနှင့်ပြည်ပမှ ဝယ်ယူတင် သွင်းမည့် စက်များ၊ စက်လိုင်းများ၏ Specification များ ဖော်ပြထားခြင်း

မရှိသဖြင့် Layout Diagram နှင့် Specification များ ပူးတွဲဖော်ပြရန် လိုအပ်ပါသည်။

(စ) ပြည်တွင်းမှ ဝယ်ယူမည့် ရုံးအသုံးအဆောင်ပရိဘောဂစာရင်းများ၏ စုစုပေါင်း တန်ဖိုး အမေရိကန်ဒေါ်လာ (၁.၈၅)သန်းတွင် Computer Set (Complete) 100 set အား 1 set လျှင် 2,000 US$ ၊ Air con (၅၀)လုံးအား ၁ လုံးလျှင် 4000 US$ ၊ Copy M/C (၁၀)လုံးအား (၁)လုံးလျှင် 10,000 US$၊ Refrigeration (၁၀)လုံးအား (၁)လုံးလျှင် 5,000 US$ ဟု ဖော်ပြထားသဖြင့် လက်ရှိကာလ ပေါက်ဈေးနှုန်းများထက် အလွန်မြင့်မားစွာ တိုးမြှင့်ဖော်ပြထား သည်ကို စိစစ်တွေ့ရှိရပါသည်။

(ဆ) နိုင်ငံခြားရင်းနှီးမြှုပ်နှံမည့် ကုမ္ပဏီအမည်မှာ ကွဲလွဲနေပြီး အဆိုပါကုမ္ပဏီ(၂)ခု ၏ ဆက်စပ်မှုကို စာချုပ်တွင် ထည့်သွင်းဖော်ပြထားခြင်း မရှိပါ။

(ဇ) Steel နှင့်ဆက်စပ်ပစ္စည်းများ ထုတ်လုပ်မည်ဖြစ်သဖြင့် ဝန်ထမ်းများ ဘေး အန္တရာယ်ကင်းရှင်းရန်အတွက် ထုတ်လုပ်မှုလုပ်ငန်းများတွင် လုံလောက်သော Spacing အနေအထားရှိရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Mansa Iron and Steel Fabrication and Manufacturing Co.,Ltd.မှ သံနှင့်သံမဏိပစ္စည်းအမျိုးမျိုး ပြုပြင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှု လုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၁.၁.၁၆

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း

Myanmar Investment Commission

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း-၀၁-၆၅၈၁၂၈
ဖက်(စ်) -၀၁-၆၅၈၁၄၁

စာအမှတ်၊ ရက- ၃/မ-၁၃၀၂/၂၀၁၆( ၃၈၄ )
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် မတ်လ ၁၀ ရက်

## အဆိုပြုလွှာအပေါ် ထပ်မံစိစစ်ချက်

မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်) မန်နျူဖက်ချားရင် ကုမ္ပဏီ လီမိတက် မှ သံနှင့် သံမဏိပစ္စည်းအမျိုးမျိုး ပြုပြင်ထုတ်လုပ်၊ ရောင်းချခြင်းလုပ်ငန်း အဆိုပြုလုပ်ငန်းအပေါ် ဌာန၏လမ်းညွှန်ချက်နှင့် အညီ ကုမ္ပဏီမှ ပြန်လည် ပြင်ဆင်တင်ပြလာပါသဖြင့် ၎င်းပြင်ဆင်ချက်ကို အောက်ပါဇယားတွင် စိစစ်မှတ်ချက်ပြုပေးနိုင်ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

အတွင်းရေးမှူး(ကိုယ်စား)
(စန်းစန်းမြင့်၊ ညွှန်ကြားရေးမှူး)

| စဉ် | ဌာန | စိစစ်သူ | | စိစစ်ဆောင်ရွက်ချက် | လက်မှတ် |
|---|---|---|---|---|---|
| | | အမည် | ရာထူး | | |
| ၁ | စက်မှုဝန်ကြီးဌာန | (ဝင်းနိုင်) လက်ထောက်အတွင်းဝန် (ညွှန်ကြားရေးမှူး) ဝန်ကြီးရုံး စက်မှုဝန်ကြီးဌာန | | လက်ခံနိုင်ပါသည်/ ✓ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်/ လက်မခံနိုင်ပါ | |
| ၂ | စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန | | | လက်ခံနိုင်ပါသည်/ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်/ လက်မခံနိုင်ပါ | |
| ၃ | အမှတ်(၁) အကြီးစား စက်မှုလုပ်ငန်း | [illegible] | [illegible] | လက်ခံနိုင်ပါသည်/ ✓ ပြန်လည်စိစစ်ရန်လိုအပ်ပါသည်/ လက်မခံနိုင်ပါ | |

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

Checking to Ministries- Mausa

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**ဆောက်လုပ်ရေးဝန်ကြီးဌာန**
ဝန်ကြီးရုံး
နေပြည်တော်

M.028
7/4
NPL.047
6.1.16

စာအမှတ်၊ ၂၁/ ဌာနခွဲ - ၂ / MIC / ၂၀၁၄(စီ၀၄)
ရက် စွဲ ၊ ၂၀၁၆ ခုနှစ် ဇန်နဝါရီလ ၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပေးပို့ခြင်း**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၅ခုနှစ် ဒီဇင်ဘာလ ၂၂ ရက်နေ့စွဲပါစာအမှတ် ၊ ရက-၃/မ-၁၃၀၂/၂၀၁၅(၁၇၉၀-၅)

၁။ ရန်ကုန်တိုင်းဒေသကြီး ၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ် ၊ စက်မှုဇုန် ၊ မြေတိုင်းရပ်ကွက်အမှတ် (၂၃) ၊ မြေကွက်အမှတ် (၅၂၉/၃)ရှိ မြေ (၂.၄၄၁)ဧက နှင့် (၅၂၉/၄)ရှိ မြေ (၂.၂၃၆)ဧက စုစုပေါင်း ဧရိယာ (၄.၇၀၄)ဧကအား ဌားရမ်း၍ သံနှင့် သံမဏိပစ္စည်းအမျိုးမျိုး ပြုပြင်ထုတ်လုပ်ရောင်းချ ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် မန်စာအိုင်းရင်းအင်(န်)စတီး ဖယ်ဘရီကေးရှင်းအင်(န်)မန်နျူဖက်ချားရင်း ကုမ္ပဏီလီမိတက်မှ အဆိုပြုတင်ပြလာခြင်းနှင့် ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းချက်ပါစာဖြင့် သဘောထားမှတ်ချက် တောင်းခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့် ပတ်သက်၍ မန်စာအိုင်းရင်းအင်(န်)စတီးဖယ်ဘရီကေးရှင်းအင်(န်)မန်နျူဖက်ချားရင်းကုမ္ပဏီလီမိတက်မှ တင်ပြလာသော လုပ်ငန်းအမျိုးအစားမှာ သံနှင့် သံမဏိထုတ်လုပ်သည့် လုပ်ငန်းဖြစ်ပါက မြို့ပြပတ်ဝန်းကျင်ရှုထောင့်မှ ခွင့်ပြုရန်မသင့်ပါ။သို့သော် သံနှင့် သံမဏိကို ဖြတ်တောက်တပ်ဆင်ပြီး ပြုပြင်ထုတ်လုပ်ရောင်းချသည့် လုပ်ငန်းအမျိုးအစားဖြစ်ပါက ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ ၊ စက်မှုဝန်ကြီးဌာန ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့် သစ်တောရေးရာဝန်ကြီးဌာနတို့မှ ချမှတ်ထားသော ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ နှင့် ညီညွတ်မှုရှိမည်ဆိုပါက ခွင့်ပြုနိုင်ပါကြောင်း သဘောထားမှတ်ချက်အား ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ကျော်လင်း၊အမြဲတမ်းအတွင်းဝန်

မိတ္တူကို
- ညွှန်ကြားရေးမှူးချုပ် ၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန။

MIC(advice)

